ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ

စာအမှတ်၊ ၂၂ / ၅၃ / ၂၂ ( ၁၂၆ / ၂၀၂၀)

ရက်စွဲ ၊၂၀၂၀ပြည့်နှစ် စက်တင်ဘာလ ၂၁ ရက်

## ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ Northern Lights (Hpa An) Limited မှ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုမိန့်ထုတ်ပေးပါရန် တင်ပြလာခြင်း ကိစ္စ

၁။ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Northern Lights (Hpa An) Limited မှ ဦးပိုင်အမှတ် (၁၇/၅, ၁၉/၁)၊ (၁၇/၆,၁၉/၂)၊ ဇွဲကပင်တောင်ကြား၊ ပိုင်ယန်းလမ်း၊ ဘားအံမြို့နယ်၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ (၈.၄၉) ဧကတွင် အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် မြေစာရင်းပုံစံ အမှတ်(၁၀၅)၊ ပြည်နယ် အစိုးရအဖွဲ့နှင့် ပြည်နယ်မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးကော်မတီ၏ ထောက်ခံ တင်ပြစာများအား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေး ကာလမှာ-၃ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၄,၀၈၆ သန်း (US$ ၀.၇၃ သန်း အပါအဝင်) ဖြစ်ပါသည်။ အဆိုပါမတည်ငွေရင်းအနက်မှ အမေရိကန်ဒေါ်လာ ၀.၇၃ သန်းတွင် ပါဝင်သောမော်တော်ယာဉ်များအား အခွန်အခပေးဆောင်၍ တင်သွင်းအသုံးပြုမည်ဖြစ်ပြီး ကုမ္ပဏီ ၏မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ် | အမေရိကန်ဒေါ်လာ | စုစုပေါင်း(ကျပ်) |
|---|---|---|---|
| ငွေသား | ၉၁,၆၃၅,၅၇၉ | - | ၉၁,၆၃၅,၅၇၉ |
| မြေတန်ဖိုး | ၈၀၀,၀၀၀,၀၀၀ | - | ၈၀၀,၀၀၀,၀၀၀ |
| အဆောက်အဦ | ၂,၂၀၅,၃၅၃,၀၇၁ | - | ၂,၂၀၅,၃၅၃,၀၇၁ |
| စက်ပစ္စည်း | - | ၁၉၄,၇၀၀ | ၂၆၂,၈၄၅,၀၀၀ |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်း | - | ၅၃၇,၉၀၁ | ၇၂၆,၁၆၆,၃၅၀ |
| စုစုပေါင်း | ၃,၀၉၇,၆၆၃,၈၁၅ | ၇၃၂,၆၀၁ | ၄,၀၈၆,၀၀၀,၀၀၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၃ ဦးအား ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြင့် ခန့်ထားမည် ဖြစ်ပြီး၊ ပြည်ပဝန်ထမ်း (၁) ဦးအား အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြင့် ခန့်ထားမည်ဖြစ်ပါသည်။

၆။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားခဲ့ပါသည်-

(က) ကရင်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ-က

(ခ) ပြည်နယ်ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဟိုတယ်တည်ဆောက်ခွင့်နှင့် လုပ်ငန်းလိုင်စင်ရရှိရေး လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်နေဆဲဖြစ်ကြောင်း၊ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ (၁၉၉၃) နှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့် (၂၀၁၁) များပါ ပြဌာန်းချက်များနှင့်အညီလိုက်နာဆောင်ရွက်သွားရန်နှင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ-ခ

(ဂ) ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှု (CSR) ၂ % အား တိတိကျကျ လိုက်နာဆောင်ရွက်သွားရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအား လိုက်နာသွားရန်၊ လုပ်ငန်းဆောင်ရွက်မည့်နေရာရှိ ဒေသခံပြည်သူများ၏ သဘောထားရယူသွားရန်နှင့် အဆိုပြုလုပ်ငန်းအပေါ်ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ-ဂ

၇။ ငွေကြေးအထောက်အထားအဖြစ် ဦးစိုးမင်းထိုက် အမည်ဖြင့် နေပြည်တော် ဖွံ့ဖြိုးရေးဘဏ် (ဇမ္ဗူသီရိ) ဘဏ်ခွဲတွင် ငွေစာရင်းအမှတ် ၀၀၂၀၂၀၁၁၀၀၀၅၁၅၈၀၀ ဖြင့်ငွေသားစုစုပေါင်း ကျပ် ၉၂၀,၀၀၅,၀၀၀.၀၀ သန်း ရှိကြောင်း တင်ပြထားပါသည်။

စိစစ်တင်ပြချက်

၈။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့်ရယူဆောင်ရွက်ရမည့်စာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့်သာဆောင်ရွက်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် (၁၃/ ၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်သည့်အတွက် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များခံစားနိုင်မည်ဖြစ်သဖြင့် ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ လျှောက်ထားတင်ပြထားပါသည်။

(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၇ နှစ် လျှောက်ထားနိုင်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အရနိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်းတွေ့ရှိရပါသည်။

(စ) အလုပ်သမားများနှင့် ဒေသခံပြည်သူများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Northern Lights (Hpa An) Limited မှ အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နိုင်ဝင်းတိုး ၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## Northern Lights (Hpa An) Limited ၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Northern Lights (Hpa An) Ltd. | (1) U Soe Min Htike<br>Director<br>Myanmar<br>12/ KaMaYa (N) 027791<br><br>(2) Daw Hnin Myat Htwe<br>Director<br>Myanmar<br>12/ KaMaTa (N) 000651 | Oo Paing No.(17/5-19/1),(17/6-19/2), Zwekapin Valley, Paing Yan Street, Hpa An Township, Kayin State.<br>Oo Paing No.(17/5-19/1),(17/6-19/2), Zwekapin Valley, Paing Yan Street, Hpa An Township, Kayin State. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ် - ၀၉-၉၆၄၈၀၈၉၉၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - ဦးပိုင်အမှတ် (၁၇/၅-၁၉/၁) (၁၇/၆-၁၉/၂)၊ ဇွဲကပင်တောင်ကြား၊ ပိုင်ယန်းလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးစိုးမင်းထိုက်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - 127020574 (17-8-2020)

၆။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - နေပြည်တော် ဖွံ့ဖြိုးရေးဘဏ် (ဇမ္ဗူသီရိ) ဘဏ်ခွဲ (၀၀၂၀၂၀၁၁၀၀၀၅၁၅၈၀)

KYNLC-349
15/9/2020




နောက်ဆက်တွဲ (က)

**လျှို့ဝှက်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်နယ်အစိုးရအဖွဲ့ရုံး**

**ကရင်ပြည်နယ်**

စာအမှတ်၊ ၂၀၀ / ၇ - ၂၆ / ဦး ၆ ( ၃၁၀၃ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ စက်တင်ဘာလ ၁၄ ရက်

သို့

အတွင်းရေးမှူး
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ( ၃-၉-၂၀၂၀ )ရက်စွဲပါ စာအမှတ်၊ ၂၂ / ၅၃ / ၂၂ (၁၁၁/၂၀၂၀)

Northern Lights (Hpa An) Ltd. မှ ဘားအံမြို့နယ်၊ ခွဲကပင်တောင်ကြား၊ ပိုင်ယန်းလမ်း၊ ဦးပိုင်အမှတ်(၁၇/၅, ၁၉/၁)၊ (၁၇/၆, ၁၉/၂)တို့ရှိ မြေဧရိယာ(၈.၄၉)ဧကပေါ်တွင် အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ (၉-၉-၂၀၂၀)ရက်နေ့တွင်ကျင်းပပြုလုပ်သော ကရင်ပြည်နယ် အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၃၃/၂၀၂၀) ဆုံးဖြတ်ချက် အပိုဒ်(၄)အရ **ကန့်ကွက်ရန်မရှိကြောင်း** အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
( ကျော်စိုး၊ အတွင်းရေးမှူး )

မိတ္တူကို

ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
ပြည်နယ်ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဘားအံမြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ဘားအံမြို့
Northern Lights (Hpa An) Ltd.
မျှော / လက်ခံ

KYNIC-343
4/9/2020




နောက်ဆက်တွဲ (ခ)

ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန
ဘားအံရုံးခွဲ
စာအမှတ်၊ က - ဘ အ / ၂၀၂၀ ( ၇၀၂ )
ရက်စွဲ၊၂၀၂၀ပြည့်နှစ်၊စက်တင်ဘာလ( ၃ )ရက်

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၃-၉-၂၀၂၀)ရက်စွဲပါစာအမှတ်၊၂၂/၅၃/၂၂(၁၁၂/၂၀၂၀)

၁။ ရည်ညွှန်းပါစာဖြင့် ရာနူန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Northern Lights (Hpa-an) Ltd မှ ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ တော်ပုံကျေးရွာအုပ်စု၊ ကွင်းအမှတ်-OSS(၆၆)၊ ထမွလောက်ကြေးတိုင်ပြင်ကွင်း၊ မြေကွက်အမှတ်-(၁၇/၆)၊ (၁၉/၂)ရှိ မြေရိုင်းဧရိယာ(၈.၄၉)ကေရှိ မြေပေါ်တွင် အဆင့်မြင့်ဟိုတယ်နှင့် အပန်းဖြေလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ ဥပဒေနှင့်အညီ လုပ်ဆောင်ခွင့်ပြုပါရန် ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလျှောက်ထားမှုအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှ (၅) ရက်အတွင်း ပြန်ကြားပေးရန် ညွှန်ကြားလာပါသည်။

၂။ အဆိုပါ လုပ်ငန်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ ရည်ညွှန်းစာပါ သဘောထားမှတ်ချက်ပြန်ကြားပေးရမည့် အချက်(၃)ချက်အား အောက်ပါအတိုင်း ပြန်ကြားပါသည်-

(က) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီသည်လျှောက်ထားသည့်မြေ (၈.၄၉)ကေအနက် (၄.၄၉)ကေပေါ်တွင် အဆင့်မြင့်ဟိုတယ်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန်နှင့်(၄.၀၀)ကေပေါ်တွင် အပန်းဖြေဥယျာဉ်နှင့်စားသောက်ဆိုင်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပြီး (၄.၄၉) ကေအတွက် အခြားနည်းအသုံးပြုရန် လျှောက်ထားမှုအပေါ် ဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပြီး ဟိုတယ်တည်ဆောက်ခွင့်နှင့် လုပ်ငန်းလိုင်စင်ရရှိရေး လုပ်ထုံးလုပ်နည်းနှင့် အညီ ဆောင်ရွက်နေဆဲဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီအား ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာန၊ မြန်မာနိုင်ငံခရီးသွားလုပ်ငန်းဥပဒေပါပြဌာန်းချက်များ၊ နည်းဥပဒေများ၊

ထားပါသည်။

(ဂ) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအားဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားပါသည်။

3/9/20

အေးမောင်လှိုင်
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို

- ပြည်နယ်ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့။
- ညွှန်ကြားရေးမှူး၊ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ဘားအံမြို့။
- ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)



ပြည်နယ်ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ကရင်ပြည်နယ် ၊ ဘားအံမြို့
စာအမှတ်၊ ၁၀၇၅ / ကရ - (EIA) / ၂၀၂၀
ရက်စွဲ ၊၂၀၂၀ပြည့်နှစ်၊ စက်တင်ဘာလ ၄ ရက်

သို့

အတွင်းရေးမှူး
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်၊ ဘားအံမြို့

KNSIC-345
4/9/2020

အကြောင်းအရာ။ Northern Lights (Hpa An) Co.,Ltd. အမည်ဖြင့် အဆင့်မြင့်ဟိုတယ်နှင့် အပန်းဖြေစခန်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အကြောင်းကြားခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ ကရင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၃-၉-၂၀၂၀ ရက်စွဲပါစာအမှတ်၊ ၂၂ / ၅၃ / ၂၂ (၁၁၃/၂၀၂၀)

၁။ Northern Lights (Hpa An) Co.,Ltd. မှ ကရင်ပြည်နယ်၊ ဘားအံမြို့၊ တော်ပုံကျေးရွာအုပ်စု၊ ထမ္မလောက်ကြေးတိုင်ပြင်ကွင်း၊ ကွင်းအမှတ် (OSS-၆၆) ဦးပိုင်အမှတ် (၁၇/၁) နှင့် (၁၉/၁) ပေါ်တွင်ရှိသည့် မြေဧရိယာ (၄.၀၀) ဧကနှင့် ဦးပိုင်အမှတ် (၁၇/၂) နှင့် (၁၉/၂) တွင်ရှိသည့် မြေဧရိယာ (၄.၄၉) ဧက စုစုပေါင်း (၈.၄၉) ဧကတွင် အခန်း ( ၅၄ ) ခန်း ပါ အဆင့်မြင့်ဟိုတယ်နှင့်အပန်းဖြေစခန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအတည်ပြုလျှောက်ထားလွှာတွင် အောက်ပါ **စီမံကိန်းဆိုင်ရာအချက်များ ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်-**

(က) တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလမှာ (၃) နှစ်ဖြစ်ကြောင်း၊

(ခ) စီးပွားဖြစ် စတင်ဆောင်ရွက်မည့်နှစ်မှာ အတည်ပြုမိန့်ရရှိပြီးနောက် (၃) နှစ်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုအဆောက်အဦတွင် အခန်း(၅၄)ခန်းပါ၊ Phase I တွင် Single Bungalow (၁၀)လုံးနှင့် Duplex (၄)ခန်းတွဲ (၁) လုံး၊ စုစုပေါင်း (၁၄) ခန်း၊ Phase II တွင် RC (၂) ထပ် (၁) လုံး၊ အခန်း(၂၀) နှင့် Phase III တွင် Single Bungalow (၂၀) လုံး ပါရှိကြောင်း၊

(ဃ) အဆိုပြုမြေနေရာ (၈.၄၉) ဧကပေါ်တွင် ဟိုတယ်အဆောက်အဦ (၁) လုံး၊ စားသောက်ဆိုင်၊ Minimark၊ အပန်းဖြေဥယျာဉ်နှင့် ရေကူးကန်တို့ပါရှိကြောင်း၊

( င ) လုပ်ငန်းမှ နှစ်စဉ်အမြတ်ငွေ၏ ၂ % အား လူမှုရေးဆိုင်ရာတာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibilit-CSR) ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း၊

( စ ) မီးဘေးလုံခြုံရေးနှင့် စပ်လျဉ်း၍ မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုကို အစဉ်ခံယူ၍ လမ်းညွှန်ချက်များအတိုင်း ဂရုပြုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

( ဆ ) စီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ ထွက်ရှိလာမည့် စွန့်ပစ်ရေများ၊ မိလ္လာအညစ်အကြေးအရည်များကို နည်းစနစ်တကျ စွန့်ပစ်ခြင်းများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

( ဇ ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာကျင့်သုံးဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

( ဈ ) အမျိုးသားယဉ်ကျေးမှုကို ထိန်းသိမ်းခြင်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းအသီးသီး၏ လမ်းညွှန်ချက်များ၊ ညွှန်ကြားချက်များအား သိရှိလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Northern Lights(Hpa An) Co.,Ltd. မှ အဆင့်မြင့် ဟိုတယ်တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ခြင်းကာလအတွက် မြေပြုပြင်ခြင်း၊ မြေတူးခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် ဝန်းကျင်လေထုအပေါ် သက်ရောက်မှုရှိနိုင်ခြင်း၊

( ခ ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု ၊ ရေထု နှင့် လေထုညစ်ညမ်းမှုဖြစ်နိုင်ခြင်း၊

( ဂ ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျ စွန့်ပစ်ခြင်းမပြုဘဲ တိုက်ရိုက်စွန့်ပစ်ပါက ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ Bar ၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြည့်ရန် အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကြွပ်ကြွပ်အိတ်ကဲ့သို့

အမှိုက်များကို စနစ်တကျ မစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Northern Lights (Hpa An) Co.,Ltd. မှ အဆင့်မြင့်ဟိုတယ် အပန်းဖြေစခန်း၊ စားသောက်ဆိုင်၊ Minimard နှင့် ရေကူးကန် လုပ်ငန်းဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်လိုကြောင်း ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ သက်ရောက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် နှစ်စဉ်အမြတ်ငွေ၏ (၂%) ကို ရန်ပုံငွေအဖြစ်အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

( ခ ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan -EMP)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ သတ်မှတ်ချက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန် ။

ပြည်နယ်တာဝန်ခံ
(မေဉ်မော်ကို၊ လက်ထောက်ညွှန်ကြားရေးမှူး)

မိတ္တူကို

ဝန်ကြီး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ သစ်တော၊ သတ္တုနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန၊ ကရင်ပြည်နယ် } တင်ပြအပ်ပါသည်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော် }

ရုံးလက်ခံ/မျှောစာတွဲ